


# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်




ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၀၃၄ / ၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂၅ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဇော်မျိုးကျော်

(ခ) **အဘ အမည်** ဦးသော်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၇/ပခန(နိုင်)၀၀၂၃၅၅

(ဃ) **နေရပ်လိပ်စာ** အမှတ် ၁၄၈(က-၂)၊ အေဝမ်းလမ်း၊ (၉)မိုင်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** United Hotels and Resorts Co., Ltd.(စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ကော့သောင်းမြို့နယ်၊ ခေါင်ညိုကြီးကျွန်း ရှိ မြေ (၂၀) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၅၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၀.၀၂ သန်း အပါအဝင် စုစုပေါင်းကျပ် သန်း ငါးရာ တိတိ )

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၆ /၂၀၁၅ (မနသ)

၂၀၁၅ ခုနှစ် ဖေဖော်ဝါရီ လ ၂၅ ရက်

၁။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ကော့သောင်းမြို့နယ်၊ ခေင်ညိုကြီး ကျွန်းရှိ မြေဧရိယာ (၂၀) ဧကတွင် B.O.T စနစ်ဖြင့် ဟိုတယ်အပန်းဖြေစခန်း ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဇော်မျိုးကျော်(အဘ-ဦးသော်)မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြု တင်ပြချက်အား ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ၃၁ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၂/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ " လုပ်ငန်း ဆောင်ရွက်ခွင့်ပြုကြောင်းနှင့် ပြည်ပမှ တင်သွင်းမည့် မော်တော်ယာဥ် ၁ စီး အား အခွန် အကောက် ပေးဆောင်၍ တင်သွင်းရန် " ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင် ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၀၃၄ / ၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဥ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌

ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ်ထားရှိဆောင်ရွက် အကောင် အထည်ဖော်ရမည်။

၅။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)သည် ဤ အဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ တနင်္သာရီ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် United Hotels and Resorts Co., Ltd. (စုပေါင်း ဟိုတယ်နှင့် အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး နှစ် (၅၀)နှင့် သက်တမ်း တိုးမြှင့်မည့် ကာလမှာ (၁၀)နှစ် သက်တမ်း(၂)ကြိမ် ဖြစ်သည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက် ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)သည် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ Land Use Premium ကြေးအဖြစ် ကျပ် ၆,၀၀၀,၀၀၀ (ကျပ် သိန်းခြောက်ဆယ်တိတိ)အား စာချုပ်လက်မှတ် ရေးထိုးပြီးသည့်နေ့မှ တစ်လအတွင်း တစ်ကြိမ်တည်း ပေးသွင်းရမည် ။

၉။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)သည် နှစ်စဉ် မြေငှားရမ်းခအဖြစ် တစ်ဧကလျှင် ကျပ်(၂၀၀၀၀)နှုန်းဖြင့် စုစုပေါင်း(၂၀)ဧကအတွက် ကျပ်(၄၀၀,၀၀၀)အား အောက်ပါအတိုင်း ပေးသွင်းရမည်-

(က) ပထမအကြိမ်အဖြစ် ဟိုတယ်တရားဝင် ဖွင့်လှစ်သည့်နေ့တွင် ကျပ် ၂၄၀,၀၀၀

(ခ) ဒုတိယအကြိမ်အဖြစ် ဘဏ္ဍာနှစ်၏ မတ်လ ၃၁ ရက်နေ့ မတိုင်မီ ကျပ် ၁၆၀,၀၀၀

၁၀။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)သည် ဟိုတယ် လုပ်ငန်းမှ ရရှိသော နှစ်စဉ် ဝင်ငွေ၏ ၂ % ကို တနင်္သာရီတိုင်းဒေသကြီး ဖွံ့ဖြိုးရေး လုပ်ငန်းများ ဆောင်ရွက်ရာတွင် အသုံးပြုနိုင်ရန် သတ်မှတ်ထားသည့် ငွေစာရင်းခေါင်းစဉ်သို့ ပေးသွင်းရမည်။

၁၁။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)သည် ဟိုတယ်တည်ဆောက်ရေးကာလမှာ မြေလွှဲပြောင်းလက်ခံသည့်နေ့မှစ၍ (၂၄)လအတွင်း ပြီးစီးအောင် တည်ဆောက်ရမည်။

၁၂။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီ လီမိတက်)

တို့ ချုပ်ဆိုမည့် နှစ်ရှည် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်တို့ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်း ခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်း သဘောတူ စာချုပ်မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၁၃။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီ လီမိတက်)သည် ဟိုတယ် အဆောက်အအုံ ပြီးစီးသည့်အခါ ဟိုတယ်လုပ်ငန်းလိုင်စင် ရရှိရေး အတွက် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနသို့ လျှောက်ထားရမည်။

၁၄။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီ လီမိတက်)သည် နှစ်ရှည် မြေငှားရမ်းခြင်း သဘောတူစာချုပ်အရ ငှားရမ်းခွင့်ပြုထားသည့် မြေ ဧရိယာအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း အခြား မည်သူ တစ်ဦးတစ်ယောက်၊ အဖွဲ့အစည်းတစ်ခုခုသို့ လွှဲပြောင်းခြင်း၊ ရောင်းချခြင်း၊ ထပ်ဆင့် ငှားရမ်းခြင်း နှင့် အခြားနည်းဖြင့် အသုံးပြုခြင်းမျိုး မပြုလုပ်ရ။

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၆။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီ လီမိတက်)သည် လုပ်ငန်း ဆောင်ရွက်ရာတွင် သက်ဆိုင်ရာ ဥပဒေများ ပြဌာန်း ပေါ်ပေါက်လာ သည့်အခါ အဆိုပါ ဥပဒေပါ ပြဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန် လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၇။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်ဆီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး လေ့လာခြင်း ( Initial Environmental Examination-- IEE)၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီး ဌာနတို့သို့ ပေးပို့ အစီရင်ခံရမည်။

၁၈။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့်

စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၉။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေး အန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၂၀။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ် သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၁။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၃။ United Hotels and Resorts Co., Ltd. (စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ရမည်။

၂၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း